အသိဉာဏ် 'ဝိဇ္ဇာ' ဖြစ်ပေါ်ခဲ့ပြီ၊ (အဝိဇ္ဇာ) အမှောင် ပျောက်ခဲ့ပြီ၊ (ဝိဇ္ဇာ) ဉာဏ် အလင်းရောင် ဖြစ်ပေါ်ခဲ့ပြီ၊ မမေ့မလျော့ဘဲ ပြင်းစွာ အားထုတ်လျက် တည်ကြည်သော စိတ်ရှိသည် ဖြစ်၍ နေသော သူအား အဝိဇ္ဇာ မှောင်ကင်း၍ ပညာဉာဏ် အရောင် အလင်း ဖြစ်ပေါ် သကဲ့သို့တည်း။

၄၈၄။ ထိုငါသည် ဤသို့ တည်ကြည်သော စိတ်သည် စင်ကြယ် လတ်သော် ဖြူစင် လတ်သော် ညစ်ကြေး မရှိ လတ်သော် ညစ်ညူးခြင်း ကင်းလတ်သော် နူးညံ့ လတ်သော် ပြုတိုင်းရ လတ်သော် တည်တံ့ လတ်သော် မတုန်လှုပ်ခြင်းသို့ ရောက်လတ်သော် သတ္တဝါတို့၏ သေခြင်း 'စုတိ' ဖြစ်ခြင်း 'ပဋိသန္ဓေ' ကို သိသော ဉာဏ် အလို့ငှါ စိတ်ကို ရှေးရှု ဆောင်ခဲ့ပြီ၊ ရှေးရှု ညွတ်စေခဲ့ပြီ။ ထိုငါသည် အထူးသဖြင့် စင်ကြယ်သော လူတို့၏ မျက်စိအမြင်ကို လွန်သော နတ်မျက်စိနှင့် တူသော မျက်စိ 'ဒိဗ္ဗစက္ခု' ဖြင့် သေဆဲ သတ္တဝါ ဖြစ်ပေါ်ဆဲ သတ္တဝါ ယုတ်သော သတ္တဝါ မြတ်သော သတ္တဝါ အဆင်းလှသော သတ္တဝါ အဆင်းမလှသော သတ္တဝါ ကောင်းသော လားရာ 'ဂတိ' ရှိသော သတ္တဝါ မကောင်းသော လားရာ 'ဂတိ' ရှိသော သတ္တဝါတို့ကို မြင်၏၊ ကံအားလျော်စွာ ဖြစ်သော သတ္တဝါတို့ကို သိ၏။ပ။ ဘာရဒွါဇ ငါသည် ညဥ့်၏ အလယ်ဖြစ်သော သန်းခေါင်ယံ၌ နှစ်ခုမြောက် ဤအသိဉာဏ် 'ဝိဇ္ဇာ' ကို ရခဲ့ပြီ၊ မသိမှု 'အဝိဇ္ဇာ' ပျောက်ခဲ့ပြီ၊ အသိဉာဏ် 'ဝိဇ္ဇာ' ဖြစ်ပေါ်ခဲ့ပြီ၊ (အဝိဇ္ဇာ) အမှောင် ပျောက်ခဲ့ပြီ။ (ဝိဇ္ဇာ)ဉာဏ် အလင်းရောင် ဖြစ်ပေါ်ခဲ့ပြီ၊ မမေ့မလျော့ဘဲ ပြင်းစွာ အားထုတ်လျက် တည်ကြည်သော စိတ်ရှိသည် ဖြစ်၍ နေသော သူအား အဝိဇ္ဇာ မှောင်ကင်း၍ ပညာဉာဏ် အရောင်အလင်း ဖြစ်ပေါ် သကဲ့သို့တည်း။

ထိုငါသည် ဤသို့ တည်ကြည်သော စိတ်သည် စင်ကြယ် လတ်သော် ဖြူစင် လတ်သော် ညစ်ကြေး မရှိ လတ်သော် ညစ်ညူးခြင်း ကင်းလတ်သော် နူးညံ့ လတ်သော် ပြုတိုင်းရ လတ်သော် တည်တံ့ လတ်သော် မတုန်လှုပ်ခြင်းသို့ ရောက်လတ်သော် အာသဝေါ တရားတို့ကို ကုန်ခန်း စေတတ်သော 'အာသဝက္ခယ' ဉာဏ် အလို့ငှါ စိတ်ကို ရှေးရှု ဆောင်ခဲ့ပြီ၊ ရှေးရှု ညွတ်စေခဲ့ပြီ။ ထိုငါသည် "ဤကား ဆင်းရဲ" ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ "ဤကား ဆင်းရဲ ဖြစ်ပေါ်ခြင်း၏ အကြောင်း" ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ "ဤကား ဆင်းရဲချုပ်ရာ (နိဗ္ဗာန်)"ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ "ဤကား ဆင်းရဲချုပ်ရာ (နိဗ္ဗာန်) သို့ ရောက်ကြောင်း အကျင့်" ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ "ဤသည်တို့ကား အာသဝေါ တရားတို့" ဟု ဟုတ်တိုင်း မှန်စွာ သိ၏။ "ဤကား အာသဝေါ တရားတို့၏ ဖြစ်ပေါ်ခြင်း၏ အကြောင်း" ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ "ဤကား အာသဝေါ တရားတို့၏ ချုပ်ရာ (နိဗ္ဗာန်)" ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ "ဤကား အာသဝေါ တရားတို့၏ ချုပ်ရာ (နိဗ္ဗာန်) သို့ ရောက်ကြောင်း အကျင့်" ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ ဤသို့ သိသော ဤသို့ မြင်သော ထိုငါ၏ စိတ်သည် ကာမာသဝမှလည်း လွတ်မြောက်ခဲ့ပြီ၊ ဘဝါသဝမှလည်း လွတ်မြောက်ခဲ့ပြီ၊ အဝိဇ္ဇာသဝမှလည်း လွတ်မြောက်ခဲ့ပြီ၊ လွတ်မြောက်ပြီး လတ်သော် "လွတ်မြောက်လေပြီ" ဟု အသိဉာဏ် ဖြစ်ပေါ်ခဲ့ပြီ၊ "ပဋိသန္ဓေနေမှု ကုန်ပြီ၊ မြတ်သော အကျင့်ကို ကျင့်သုံးပြီးပြီ၊ (မဂ်)ကိစ္စကို ပြုပြီးပြီ၊ ဤ(မဂ်) ကိစ္စ အလို့ငှါ တစ်ပါးသော ပြုဖွယ် မရှိတော့ပြီ" ဟု သိ၏။

ဘာရဒွါဇ ငါသည် ညဥ့်၏ နောက်ဆုံး ဖြစ်သော မိုးသောက်ယံ၌ သုံးခုမြောက် ဤအသိဉာဏ် 'ဝိဇ္ဇာ' ကို ရခဲ့ပြီ၊ မသိမှု 'အဝိဇ္ဇာ' ပျောက်ခဲ့ပြီ၊ အသိဉာဏ် 'ဝိဇ္ဇာ' ဖြစ်ပေါ်ခဲ့ပြီ၊ (အဝိဇ္ဇာ) အမှောင် ပျောက်ခဲ့ပြီ၊ (ဝိဇ္ဇာ) ဉာဏ် အလင်းရောင် ဖြစ်ပေါ်ခဲ့ပြီ၊ မမေ့မလျော့ဘဲ ပြင်းစွာ အားထုတ်လျက် တည်ကြည်သော စိတ်ရှိသည် ဖြစ်၍ နေသော သူအား အဝိဇ္ဇာ မှောင်ကင်း၍ ပညာဉာဏ် အရောင် အလင်း ဖြစ်ပေါ် သကဲ့သို့တည်း။

၄၈၅။ ဤသို့ မိန့်တော်မူသော် သင်္ဂါရဝလုလင်သည် မြတ်စွာဘုရားအား ဤစကားကို လျှောက်၏- "အသျှင်ဂေါတမအား မည်သူအားမျှ မတည်နိုင်သော ကျင့်ဝတ် ဖြစ်သော အားထုတ်မှုမျိုး ဖြစ်ပေ၏၊ အသျှင်ဂေါတမအား သူတော်ကောင်းတို့၏ ကျင့်ဝတ် ဖြစ်သော အားထုတ်မှုသည် ဖြစ်ပေ၏၊ ပုဗ္ဗေ အထူးကို ခံတော် မူထိုက်သော (အလုံးစုံသော တရားတို့ကို) ကိုယ်တိုင်မှန်စွာ သိတော် မူသော မြတ်စွာဘုရားအား ဖြစ်မြဲ ဓမ္မတာပေတည်း။ "အသျှင်ဂေါတမ နတ်တို့သည် ရှိပါကုန်၏လော" ဟု (လျှောက်၏)။

ဘာရဒွါဇ လွန်ကဲ မြင့်မြတ်သော နတ်တို့ကို အကြောင်း အားလျော်စွာ သိရ၏ ဟု (မိန့်တော်မူ၏)။ "အသျှင်ဂေါတမ နတ်တို့သည် ရှိပါကုန်၏လော" ဟု မေးပါလျက် "ဘာရဒွါဇ လွန်ကဲ မြင့်မြတ်သော နတ်တို့ကို အကြောင်း အားလျော်စွာ သိရ၏" ဟု ဆိုဘိ၏။ အသျှင်ဂေါတမ ဤသို့ဖြစ်သော် အချည်းနှီး ချွတ်ယွင်းသော စကားဖြစ်သည် မဟုတ်ပါလော ဟု (လျှောက်၏)။ ဘာရဒွါဇ နတ်တို့သည် ရှိပါကုန်၏ လောဟု မေးသော် နတ်တို့သည် ရှိပါကုန်၏ဟုပင် ဆိုစေကာမူ၊ အကြောင်း အားလျော်စွာ သိရ၏ဟုပင် ဆိုစေကာမူ သိကြား လိမ္မာသော ယောကျ်ားသည် "နတ်တို့ ရှိကုန်၏" ဟု ဧကန်အားဖြင့် ဆုံးဖြတ်ခြင်းသို့ ရောက်ခြင်းငှါ တတ်ကောင်း၏။ အသျှင်ဂေါတမ အဘယ့်ကြောင့် အစကပင် မဖြေကြားဘိ သနည်း ဟု (လျှောက်၏)။ ဘာရဒွါဇ လောက၌ အသံ ကျယ်ကျယ်ဖြင့်သာ သိအပ် မှတ်သား အပ်ပေ၏ ဟု (မိန့်တော်မူ၏)။

၄၈၆။ ဤသို့ မိန့်တော် မူသော် သင်္ဂါရဝလုလင်သည် မြတ်စွာဘုရားအား ဤစကားကို လျှောက်၏- "အသျှင်ဘုရား (တရားတော်သည်) အလွန် နှစ်သက်ဖွယ် ရှိပါပေ၏၊ အသျှင်ဘုရား (တရားတော်သည်) အလွန် နှစ်သက်ဖွယ် ရှိပါပေ၏၊ အသျှင်ဘုရား ဥပမာသော်ကား မှောက်ထားသည်ကို လှန်ဘိ သကဲ့သို့ လည်းကောင်း၊ ဖုံးထားသည်ကို ဖွင့်လှစ်ဘိ သကဲ့သို့ လည်းကောင်း၊ မျက်စိလည်သော သူအား လမ်းမှန်ကို ပြောကြားဘိ သကဲ့သို့ လည်းကောင်း၊ 'မျက်စိအမြင် ရှိသော သူတို့သည် အဆင်းတို့ကို မြင်ကြလိမ့်မည်' ဟု အမိုက်မှောင်၌ ဆီမီးတန်ဆောင်ကို ဆောင်ပြဘိ သကဲ့သို့ လည်းကောင်း၊ (အရှင်ဘုရား) ဤအတူ သာလျှင် မြတ်စွာဘုရားသည် များစွာသော အကြောင်းဖြင့် တရားတော်ကို ပြတော် မူပါပေ၏။ အသျှင်ဘုရား အကျွန်ုပ်သည် မြတ်စွာဘုရားကို ကိုးကွယ်ရာ ဟူ၍ ဆည်းကပ်ပါ၏၊ တရားတော်ကိုလည်း ကိုးကွယ်ရာ ဟူ၍ ဆည်းကပ်ပါ၏၊ သံဃာတော်ကိုလည်း ကိုးကွယ်ရာ ဟူ၍ ဆည်းကပ်ပါ၏၊ မြတ်စွာဘုရားသည် အကျွန်ုပ်ကို ယနေ့မှစ၍ အသက်ထက်ဆုံး (ရတနာသုံးပါးကို) ကိုးကွယ် ဆည်းကပ်သော ဥပါသကာ ဟူ၍ မှတ်တော်မူပါ" ဟု (လျှောက်၏)။

**ဆယ်ခုမြောက် သင်္ဂါရဝသုတ် ပြီး၏။**

**ငါးခုမြောက် ဗြာဟ္မဏဝဂ် ပြီး၏။**

**မဇ္ဈိမပဏ္ဏာသပါဠိတော် မြန်မာပြန် ပြီးပြီ။**

------